ပုံစံ (မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - .....၇၉၉............ / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ မတ် လ ၁၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦးအေးကို......

(ခ) အဘအမည် ......ဦးစိန်အောင်......

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ......၁၃/လရန (နိုင်) ၀၃၀၂၀၉......

(ဃ) နေရပ်လိပ်စာ ......အမှတ် (၁၀၀/ဇ)၊ လမ်းသာယာလမ်း၊ (ရ.က.က) ရပ်ကွက်၊ ပြင်ဦးလွင်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......အေးကိုမိသားစုဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Family Aye Ko Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခကောက်ခံခြင်းလုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ......မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်း (၁၁၂ မိုင်၊ ၆ ဖာလုံ)......

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ......၃၁၆၆.၇၇ (သန်း) (အမေရိကန်ဒေါ်လာ (၁.၄၂) သန်း အပါအဝင် စုစုပေါင်း ကျပ်သုံးထောင့်တစ်ရာ၊ ခြောက်ဆယ့်ခြောက်သန်း၊ ခုနစ်သိန်း ခုနစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃၈ /၂၀၁၁ (မနသ)

နေပြည်တော်၊ ၁၃၇၂ ခုနှစ်၊ တပေါင်းလဆန်း ၁၀ ရက်

(၂၀၁၁ ခုနှစ် ၊ မတ် လ ၁၄ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းပိုင် မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်း (စုစုပေါင်း ၁၁၂ မိုင်၊ ၆ ဖာလုံ ) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၁၉-၁၁-၂၀၁၁) နေ့ တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈/၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၁၉-၁-၂၀၁၁) နေ့ တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒ ကောင်စီ ၏ (၂/၂၀၁၁) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ (၂၄-၂-၂၀၁၁) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာ နိုင်ငံတော် အစိုးရအဖွဲ့၏ (၈/ ၂၀၁၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံး လျှက် အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) အား မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်း (စုစုပေါင်း ၁၁၂ မိုင်၊ ၆ ဖာလုံ ) ကို BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၇၉၉/၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင် ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး

ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့်(ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ကိုယ်ပိုင်နိုင်ငံခြားငွေ ၊ Acconut Transfer ဖြင့် ရယူခြင်း စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြ ထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်ရာတွင် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ချုပ်ဆိုမည့် BOT ပဋိညာဥ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) တို့ ချုပ်ဆိုမည့် မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ် စာချုပ် လက်မှတ်ရေးထိုးပြီးသည့် အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၈။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) ၏ မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း သက်တမ်းမှာ နှစ် (၄၀) ဖြစ်သည်။ လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ သို့မဟုတ် လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်ရမည် ။

၉။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

(က) ပထမ (၃)နှစ် အတွက် - ကင်းလွတ်ခွင့်ကာလ
(ခ) (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် - ၅% ပေးသွင်းရန်
(ဂ) (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် - ၁၀% ပေးသွင်းရန်
(ဃ) (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် - ၁၅% ပေးသွင်းရန်
(င) (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် - ၂၀% ပေးသွင်းရန်

၁၀။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတား များ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန် သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်းပေးရမည်။

၁၁။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု ၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤ ကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင် အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် ( ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထား သော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင် ဆောင်ရွက် သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့်

ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရကေ- ၆(က) /မ- ၁၀၈၉ /၂၀၁၁ ( ၄၃၃၃ )

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ မတ် လ ၁၄ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ မွန်ပြည်နယ် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး၊ မော်လမြိုင်မြို့။

၅။ စာရင်းစစ်ချုပ်ရုံး။

၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၈။ အလုပ်သမား ဝန်ကြီးဌာန။

၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန။

၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ အုပ်ချုပ်မှုဒါရိုက်တာ၊ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.)

လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃)နှစ် ဖြစ်ပါသည်။ လုပ်ငန်း သက်တမ်းကာလမှာ နှစ်(၄၀)ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ်စီ ဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်း ကာလကို လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ်အနက် စောရာနေ့ရက် ကာလမှ စတင်သတ်မှတ်မည် ဖြစ်ပါသည်။ အဆိုပြုကုမ္ပဏီမှ အောက်ပါ လမ်းအသုံးပြုခနှုန်းများအတိုင်း ကောက်ခံမည် ဖြစ်ပါသည် -

| စဥ် | ယာဥ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဥ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဥ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဥ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဥ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

လမ်း အသုံးပြုခ ရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါ သည်။

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

* B.O.T နှစ်လေးဆယ် ပြည့်ပြီးနောက် သက်တမ်းတိုးခွင့်ရရှိပါက နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရမည် ဖြစ်ပါသည်။

အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ကော့ကျိုက် - ဇာသပြင် နှင့် အိန္ဒူ-ဇာသပြင် - မော်လမြိုင် လမ်းအပိုင်းအား (၁၁-၂-၂၀၁၀)နေ့မှလည်းကောင်း၊ မော်လမြိုင် - မုဒုံ -

သံဖြူဇရပ် - ရေး (မလွှဲတောင်) လမ်းအပိုင်းအား (၁၆-၃-၂၀၁၀)နေ့မှ လည်းကောင်း လမ်းဖောက်လုပ်သည့် လုပ်ငန်းစတင်ဆောင်ရွက်ခွင့်ပြုခဲ့ပါသည်။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

အောက်ဖော်ပြပါ လမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | ကော့ကျိုက် - ဇာသပြင် နှင့် အိန္ဒူ- ဇာသပြင် - မော်လမြိုင် လမ်းအပိုင်း | (၄၅)မိုင် (၂)ဖာလုံ | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| (ခ) | မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွှဲတောင်) လမ်းအပိုင်း | (၁၁၂)မိုင် (၆)ဖာလုံ | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

အတွင်းရေးမှူး(ကိုယ်စား)

(သီတာမြင့်၊ညွှန်ကြားရေးမှူး)

ဦးထုပ်ဌာန သိသာပါရန် တင်ပြချက်

ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ကော်မရှင်သို့ တင်ပြခွင့်ပြုချက် ရယူခဲ့သည့် BOT လမ်းလုပ်ငန်း များကို အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

| | | |
|---|---|---|
| (၁) | ကော်မရှင်ခွင့်ပြုမိန့်ထုတ်ပေးပြီးလုပ်ငန်းအရေအတွက် | ၄၃ (နောက်ဆက်တွဲ-၁) |
| (၂) | အစိုးရအဖွဲ့သို့တင်ပြထားသည့် လမ်းလုပ်ငန်း အရေအတွက် | ၂ (နောက်ဆက်တွဲ-၂) |
| (၃) | ကော်မရှင်သို့ ပြန်လည်တင်ပြရန်ရှိသည့် လမ်းလုပ်ငန်း အရေအတွက် | ၁ (နောက်ဆက်တွဲ-၃) |
| (၄) | ကော်မရှင်သို့ တင်ပြရန်စိစစ်နေသည့် လမ်း လုပ်ငန်း အရေအတွက် | ၆ (နောက်ဆက်တွဲ-၄) |

စုစုပေါင်း ၅၂

နောက်ဆက်တွဲ (၁)

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ
ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးသည့် BOT စနစ်ဖြင့်
လုပ်ကိုင်သည့် လမ်းလုပ်ငန်းများ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | လမ်းအပိုင်း | ခွင့်ပြုမိန့် အမှတ် | B.O.T လုပ်ငန်း သက်တမ်း |
|---|---|---|---|---|---|
| ၁။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ မန္တလေး - ပြင်ဦးလွင်- ဝက်ဝံ- နောင်ချိုလမ်းမကြီး ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း | မိုင်တိုင်အမှတ် (၈/ ၀) မှ (၇၉/ ၀) အထိ (၇၁)မိုင် | မနသ - ၅၃၄ (၁၂-၂-၀၂) | (၄၀)နှစ် (ကော်မရှင်အစည်း အဝေး ဆုံးဖြတ်ချက် အရ ယခင်နှစ်(၃၀) မှ နှစ် (၄၀) ပြင်ဆင် ခြင်း ဖြစ်ပါသည်။) |
| ၂။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | နောင်ချို- လားရှိုးလမ်းအား တည်ဆောက်ပြုပြင်ဖောက် လုပ်၍ လမ်း၊ တံတားအသုံး ပြုခကောက်ခံခြင်းလုပ်ငန်း | မိုင်တိုင်အမှတ် (၇၉/ ၀) မှ (၁၂၃/ ၀) အထိ (၄၄)မိုင် | မနသ - ၁၅၂ (၁၅-၇-၉၈) | (၄၀)နှစ် (ကော်မရှင်အစည်း အဝေး ဆုံးဖြတ်ချက် အရ ယခင်နှစ်(၃၀) မှ နှစ် (၄၀) ပြင်ဆင် ခြင်း ဖြစ်ပါသည်။) |
| ၃။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | ကျောက်မဲ -လားရှိုး လမ်းအပိုင်း ကို ပြုပြင် ဖောက်လုပ်၍ လမ်း အသုံး ပြုခကောက်ခံခြင်းလုပ်ငန်း | မိုင်တိုင်အမှတ် (၁၂၃/၀) မှ (၁၇၂/ ၀) အထိ (၄၉)မိုင် | မနသ - ၆၉၂ (၁၈-၉-၀၈) | (၄၀)နှစ် (ကော်မရှင်အစည်း အဝေး ဆုံးဖြတ်ချက် အရ ယခင်နှစ်(၃၀) မှ နှစ် (၄၀) ပြင်ဆင် ခြင်း ဖြစ်ပါသည်။) |
| ၄။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | လားရှိုး - မူဆယ် ကားလမ်း အား ပြုပြင်ဖောက်လုပ် တည်ဆောက်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း | မိုင်တိုင်အမှတ် (၁၇၂/ ၀) မှ (၂၇၄/ ၃) အထိ (၁၀၂)မိုင် (၃)ဖာလုံ | မနသ - ၀၃၅ (၂၂-၇-၉၆) | (၄၀)နှစ် (ကော်မရှင်အစည်း အဝေး ဆုံးဖြတ်ချက် အရ ယခင်နှစ်(၃၀) မှ နှစ် (၄၀) ပြင်ဆင် ခြင်း ဖြစ်ပါသည်။) |

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးသည့် BOT စနစ်ဖြင့် လုပ်ကိုင်သည့် လမ်းလုပ်ငန်းများ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | လမ်းအပိုင်း | ခွင့်ပြုမိန့် အမှတ် | B.O.T လုပ်ငန်း သက်တမ်း |
|---|---|---|---|---|---|
| ၅။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | လားရှိုး- မူဆယ် ပြည်ထောင်စု လမ်းမကြီး၏ ဆက်စပ်လမ်း အပိုင်းများ ဖြစ်သော မိုင်းယု - ကြူကုတ်၊ မိုင်းယု - မူဆယ် နှင့် မူဆယ် - နမ့်ခမ်း လမ်း အပိုင်းတို့ ကို ပြုပြင် ဖောက်လုပ် ၍ လမ်း၊ တံတား အသုံးပြုခများ ကောက်ခံ ခြင်းလုပ်ငန်း | လားရှိုး - မူဆယ် ဆက်စပ် လမ်း မိုင်တိုင် (၀/ ၀) မှ (၁၂/ ၀) ထိ၊ ကြူကုတ် လမ်း၊ (၁၂)မိုင်၊ မိုင်တိုင် (၁၇၄/၃) မှ (၂၈၄/၃)ထိ၊ မူဆယ်လမ်း အပိုင်း (၁၀) မိုင်၊ မိုင်တိုင် (၂၈၄/ ၃) မှ (၃၀၆/၃)ထိ၊ နမ့်ခမ်းလမ်း အပိုင်း (၂၂)မိုင် (၄၄)မိုင်(၃)ဖာလုံ (၆၆)မိုင် | မနသ - ၃၆၇ (၂၀-၄-၀၀) | (၄၀)နှစ် (ကော်မရှင်အစည်း အဝေး ဆုံးဖြတ်ချက် အရ ယခင်နှစ်(၃၀) မှ နှစ် (၄၀) ပြင်ဆင် ခြင်း ဖြစ်ပါသည်။) |
| ၆။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | သိန္နီ၊ကွမ်းလုံ-ချင်းရွှေဟော် လမ်းအပိုင်းပြုပြင်ဖောက် လုပ်၍ လမ်း၊ တံတား အသုံးပြုခများ ကောက်ခံ ခြင်း လုပ်ငန်း | | မနသ- ၂၅၃ (၂၀-၅-၉၉) | (၄၀)နှစ် (ကော်မရှင်အစည်း အဝေး ဆုံးဖြတ်ချက် အရ ယခင်နှစ်(၃၀) မှ နှစ် (၄၀) ပြင်ဆင် ခြင်း ဖြစ်ပါသည်။) |
| ၇။ | ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ကျိုင်းတုံ- တာချီလိတ် ကား လမ်းအား တည်ဆောက် ပြုပြင်ဖောက်လုပ်၍ လမ်း အသုံးပြုခကောက်ခံခြင်း လုပ်ငန်း | ကျိုင်းတုံ - တာချီလိတ် လမ်းအပိုင်း၊ မိုင်တိုင် (၃၉၇/ ၄) မှ (၄၉၉/၆) အထိ (၁၀၂)မိုင် (၂)ဖာလုံ | မနသ- ၄၀၂ (၁၂-၇-၀၀) | (၄၀)နှစ် (ကော်မရှင်အစည်း အဝေး ဆုံးဖြတ်ချက် အရ ယခင်နှစ်(၃၀) မှ နှစ် (၄၀) ပြင်ဆင် ခြင်း ဖြစ်ပါသည်။) |
| ၈။ | ရွှေသံလွင် အဝေး ပြေး လမ်းမကြီး ကုမ္ပဏီလီမိတက် | ရန်ကုန်- မြိတ် ပြည်ထောင်စု လမ်းမကြီး၏ ဘုရားကြီး - ကျိုက်ထိုလမ်းအပိုင်း အဆင့်မြင့် တိုးမြှင့် ဖောက်လုပ်၍ လမ်း အသုံးပြုခကောက်ခံခြင်း လုပ်ငန်း | မိုင်တိုင်အမှတ် (၆၀/ ၄) မှ (၁၁၆/၇)ထိ၊ (၅၆)မိုင် (၃)ဖာလုံ | မနသ- ၆၆၈ (၂၈-၅-၀၆) | (၄၀)နှစ် (ကော်မရှင်အစည်း အဝေး ဆုံးဖြတ်ချက် အရ ယခင်နှစ်(၃၀) မှ နှစ် (၄၀) ပြင်ဆင် ခြင်း ဖြစ်ပါသည်။) |

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးသည့် BOT စနစ်ဖြင့် လုပ်ကိုင်သည့် လမ်းလုပ်ငန်းများ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | လမ်းအပိုင်း | ခွင့်ပြုမိန့်အမှတ် | B.O.T လုပ်ငန်းသက်တမ်း |
|---|---|---|---|---|---|
| ၉။ | မက်(စ်)မြန်မာ ကုမ္ပဏီလီမိတက် | ထောက်ကြံ့ - ပဲခူး လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခများကောက်ခံခြင်းလုပ်ငန်း | ၃၂ မိုင်၊ ၆ ဖာလုံ | မနသ - ၇၀၆ (၂-၁၁-၀၉) | (၄၀) နှစ် |
| ၁၀။ | ရွှေသံလွင် အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် | ပဲခူး- ညောင်လေးပင် လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခများကောက်ခံခြင်းလုပ်ငန်း | ၄၈ မိုင် | မနသ - ၇၀၇ (၂-၁၁-၀၉) | (၄၀) နှစ် |
| ၁၁။ | ဟိုက်စတား ကုမ္ပဏီလီမိတက် | ညောင်လေးပင်-ဇေယျဝတီ လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း | ၄၈ မိုင် | မနသ - ၇၀၈ (၂-၁၁-၀၉) | (၄၀) နှစ် |
| ၁၂။ | ကမ္ဘောဇ လမ်းကြောင်းရှာဖွေရေး စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | ဇေယျဝတီ - ရေတာရှည် လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း | ၄၈ မိုင် | မနသ - ၇၀၉ (၂-၁၁-၀၉) | (၄၀) နှစ် |
| ၁၃။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | ရေတာရှည် - ပျဉ်းမနား လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း | ၃၉ မိုင်၊ ၅.၅ ဖာလုံ | မနသ - ၇၁၀ (၂-၁၁-၀၉) | (၄၀) နှစ် |
| ၁၄။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | ပျဉ်းမနား - ရမည်းသင်း လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း | ၄၅ မိုင်၊ ၄.၅ ဖာလုံ | မနသ - ၇၁၁ (၂-၁၁-၀၉) | (၄၀) နှစ် |

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးသည့် BOT စနစ်ဖြင့် လုပ်ကိုင်သည့် လမ်းလုပ်ငန်းများ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | လမ်းအပိုင်း | ခွင့်ပြုမိန့် အမှတ် | B.O.T လုပ်ငန်း သက်တမ်း |
|---|---|---|---|---|---|
| ၁၅။ | ယုဇနဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ရမည်းသင်း - မိတ္ထီလာ လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း | ၄၈ မိုင် | မနသ - ၇၁၂ (၂-၁၁-၀၉) | (၄၀) နှစ် |
| ၁၆။ | သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မိတ္ထီလာ - မန္တလေး လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း | ၈၇ မိုင်၊ ၇ ဖာလုံ | မနသ - ၇၁၃ (၂-၁၁-၀၉) | (၄၀) နှစ် |
| ၁၇။ | ရွှေသံလွင် အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် | ကျိုက်ထို - သထုံ - မော်လမြိုင် | ၇၁ မိုင်၊ ၆ ဖာလုံ | မနသ - ၇၁၅ (၂၆-၁၁-၀၉) | (၄၀) နှစ် |
| ၁၈။ | ရွှေသံလွင် အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် | သထုံ - မြိုင်ကလေး | ၂၆ မိုင်၊ ၂ ဖာလုံ | မနသ - ၇၁၄ (၂၆-၁၁-၀၉) | (၄၀) နှစ် |
| ၁၉။ | ထွန်းညီလူ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ချောင်းဦး - ပခုက္ကူ | ၃၈ မိုင်၊ ၁ ဖာလုံ | မနသ - ၇၁၇ (၂၆-၁၁-၀၉) | (၄၀) နှစ် |
| ၂၀။ | မြတ်နိုးသူ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မိတ္ထီလာ- ကျောက်ပန်းတောင်း - ညောင်ဦး - ပုဂံ | ၉၃ မိုင်၊ ၆ ဖာလုံ | မနသ - ၇၁၆ (၂၆-၁၁-၀၉) | (၄၀) နှစ် |
| ၂၁။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | ရန်ကုန် - ပုသိမ် | ၁၁၃ မိုင် | မနသ - ၇၂၁ (၁၄-၁၂-၀၉) | (၄၀) နှစ် |
| ၂၂။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | ပုသိမ် - ငွေဆောင် | ၂၉ မိုင်၊ ၅ ဖာလုံ | မနသ - ၇၂၂ (၁၄-၁၂-၀၉) | (၄၀) နှစ် |
| ၂၃။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင် | ၉ မိုင်၊ ၃ ဖာလုံ | မနသ - ၇၂၀ (၁၄-၁၂-၀၉) | (၄၀) နှစ် |

**မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးသည့် BOT စနစ်ဖြင့် လုပ်ကိုင်သည့် လမ်းလုပ်ငန်းများ**

| စဥ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | လမ်းအပိုင်း | ခွင့်ပြုမိန့် အမှတ် | B.O.T လုပ်ငန်း သက်တမ်း |
|---|---|---|---|---|---|
| ၂၄။ | တောင်ပေါ် ဒေသ လမ်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | မိတ္ထီလာ - တောင်ကြီး (ပျော်ဘွယ်-ဘုရားငါးဆူ-သာစည် - သပြေဝ လမ်းပိုင်းများ အပါအဝင်) | ၁၄၀ မိုင်၊ ၅ ဖာလုံ | မနသ - ၇၂၃ (၁၄-၁၂-၀၉) | (၄၀) နှစ် |
| ၂၅။ | ခိုင်မာသောပန်းတိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | နမ္မတီး - မိုးကောင်း - ပါဟုတ် - နန့်စီးအောင် | ၈၉ မိုင် | မနသ - ၇၂၇ (၂၁-၁-၁၀) | (၄၀) နှစ် |
| ၂[illegible]။ | ခိုင်မာသောပန်းတိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ပါဟုတ် - ကာမိုင်း - နန့်ရား - လုံးခင်း | ၆၀ မိုင် | မနသ - ၇၂၈ (၂၁-၁-၁၀) | (၄၀) နှစ် |
| ၂၇။ | အေးအေးခိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | သပိတ်ကျင်း -တကောင်း | ၆၈ မိုင် | မနသ - ၇၂၉ (၂၁-၁-၁၀) | (၄၀) နှစ် |
| ၂၈။ | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီ လီမိတက် | စစ်ကိုင်း - မုံရွာလမ်း | ၇၃ မိုင်၊ ၃ ဖာလုံ | မနသ - ၇၃၂ (၈-၂-၁၀) | (၄၀) နှစ် |
| ၂၉။ | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီ လီမိတက် | အုန်းတော-ရွှေဘိုလမ်း | ၄၃ မိုင်၊ | မနသ - ၇၃၃ (၈-၂-၁၀) | (၄၀) နှစ် |
| ၃၀။ | မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ညောင်ဦး-မြင်းခြံလမ်း | ၄၀ မိုင် ၊ ၂ ဖာလုံ | မနသ - ၇၃၄ (၈-၂-၁၀) | (၄၀) နှစ် |
| ၃၁။ | A.K Construction Co., Ltd. | ဘားအံ - ကော့ကရိတ် - မြဝတီလမ်းအပိုင်း | ၁၁၀ မိုင်၊ ၂ ဖာလုံ | မနသ - ၇၃၆ (၈-၂-၁၀) | (၄၀) နှစ် |
| ၃၂။ | အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ကလေး-ကျီကုန်း-ကလေးဝ-တမူးလမ်း | ၁၀၀ မိုင် | မနသ - ၇၃၇ (၈-၂-၁၀) | (၄၀) နှစ် |

**မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးသည့် BOT စနစ်ဖြင့် လုပ်ကိုင်သည့် လမ်းလုပ်ငန်းများ**

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | လမ်းအပိုင်း | ခွင့်ပြုမိန့် အမှတ် | B.O.T လုပ်ငန်း သက်တမ်း |
|---|---|---|---|---|---|
| ၃၃။ | လီဒိုလမ်းမကြီး ကုမ္ပဏီလီမိတက် | မြစ်ကြီးနား-နမ္မတီး -တနိုင်း လမ်းအပိုင်း | ၁၁၉ မိုင်၊ ၄ ဖာလုံ | မနသ - ၇၅၁ (၂၇-၅-၁၀) | (၄၀) နှစ် |
| ၃၄။ | မက်(စ်)မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ်(၇) မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့ မြို့ရှောင် လမ်းအပိုင်း | ၃၇ မိုင် ၅½ ဖာလုံ | မနသ - ၇၅၅ (၅-၈-၁၀) | (၄၀) နှစ် |
| ၃၅။ | ဆုထူးပန် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မန္တလေး - ဖော့တော - သပိတ်ကျင်း - လက်ပံလှ - စဥ့်ကူး လမ်းအပိုင်း | ၄၇ မိုင် ၄ ဖာလုံ | မနသ - ၇၅၆ (၅-၈-၁၀) | (၄၀) နှစ် |
| ၃၆။ | ဆုထူးပန် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မုံရွာ - ရေဦး လမ်းအပိုင်း | ၅၄ မိုင် | မနသ - ၇၅၇ (၅-၈-၁၀) | (၄၀) နှစ် |
| ၃၇။ | ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် | ရန်ကုန်-ပြည် မကွေး လမ်း အပိုင်း | ၃၄၀ မိုင်၊ ၂½ ဖာလုံ | မနသ - ၇၆၁ (၂၂-၁၀-၁၀) | (၄၀) နှစ် |
| ၃၈။ | ဆုထူးပန်ဆောက် လုပ်ရေး ကုမ္ပဏီ လီမိတက | ဥသျှစ်ကုန်း- ဒိုက်ဦး- စစ်တောင်း လမ်းအပိုင်း | ၃၉ မိုင်၊ ၂ ဖာလုံ | မနသ - ၇၆၂ (၂၇-၁၀-၁၀) | (၄၀) နှစ် |
| ၃၉။ | သန္တိသစ္စာဆောက် လုပ်ရေး ကုမ္ပဏီ လီမိတက် | မန္တလေး-မိုးကုတ် လမ်းမကြီး ၏ ရွှေကျင်- ငွေတောင်လမ်းအပိုင်း | ၄၂ မိုင် | မနသ - ၇၆၉ (၂-၁၂-၁၀) | (၄၀) နှစ် |
| ၄၀။ | နေလသစ္စာ ဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီ လီမိတက် | တောင်ကုတ်-သံတွဲ-ငပလီ- လုံးသာ-မဇင်လမ်းအပိုင်း | (၅၆)မိုင်(၇)ဖာလုံ | မနသ- ၇၇၆ (၂၀-၁-၂၀၁၁) | (၄၀) နှစ် |

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးသည့် BOT စနစ်ဖြင့် လုပ်ကိုင်သည့် လမ်းလုပ်ငန်းများ

| စဥ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | လမ်းအပိုင်း | ခွင့်ပြုမိန့် အမှတ် | B.O.T လုပ်ငန်း သက်တမ်း |
|---|---|---|---|---|---|
| ၄၁။ | နေလသစ္စာ ဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီ လီမိတက် | ပြည်-တောင်ကုတ် လမ်းအပိုင်း | (၁၀၂)မိုင် | မနသ- ၇၇၇ (၂၁-၁-၂၀၁၁) | (၄၀) နှစ် |
| | သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မြို့သာ-တံတားဦး လမ်းအပိုင်း | ၁၆ မိုင်၊ ၅ ဖာလုံ | မနသ- ၇၈၀ (၂၈-၁-၂၀၁၁) | (၄၀) နှစ် |
| ၄၃။ | ထွန်းညိုလူ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မိတ္ထီလာ - မလှိုင် - တောင်သာ - မြင်းခြံ လမ်းအပိုင်း | ၅၅ မိုင်၊ ၁ ဖာလုံ | မနသ-၇၈၁ (၂၈-၁-၂၀၁၁) | (၄၀) နှစ် |

နောက်ဆက်တွဲ - ၂

# အစိုးရအဖွဲ့သို့ တင်ပြထားသည့် လမ်းလုပ်ငန်း

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းတည်နေရာ | လမ်းအရှည်မိုင် | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | ကော့ကျိုက်-အိန္ဒူ-ဇာသပြင်-မော်လမြိုင် လမ်းအပိုင်း | ၄၅ မိုင်၊ ၂ ဖာလုံ | ယခု အစည်းအဝေးတွင် တင်ပြထားပါသည်။ |
| ၂။ | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | မော်လမြိုင် -မုဒုံ-သံဖြူဇရပ်-ရေး လမ်းအပိုင်း | ၁၁၂ မိုင်၊ ၆ ဖာလုံ | |

နောက်ဆက်တွဲ - ၃

ကော်မရှင်သို့ ပြန်လည်တင်ပြရန်ရှိသည့် လမ်းလုပ်ငန်း

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းတည်နေရာ | လမ်းအရှည်မိုင် | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ဆုထူးပန်ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | ကသာ-အင်းတော် လမ်းအပိုင်း | ၁၈ မိုင် | MIC ၏ (၂၉ / ၂၀၁၀) (၂၇-၈-၂၀၁၀)အစည်းအဝေးမှ နဘား-နန့်စီးအောင်လမ်း အပိုင်းအပါ အဝင် (၄၀)မိုင်ဖြင့် ပြန်လည်တင်ပြရန် ဆုံးဖြတ်ချက်အား ဆောက်လုပ်ရေးသို့ အကြောင်းကြားထားပါသည်။ |

နောက်ဆက်တွဲ - ၄

ကော်မရှင်သို့ တင်ပြရန်စိစစ်နေသည့် လမ်းလုပ်ငန်း

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းတည်နေရာ | လမ်းအရှည်မိုင် | မှတ်ချက် |
|---|---|---|---|---|
| ၁။ | နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ဝွေးချို-ချောက်-ဆိပ်ဖြူ-ပခုက္ကူ လမ်းအပိုင်း | ၇၇/၇ မိုင် | |
| ၂။ | ယုဇနဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက် | ကော့သောင်း-ဘုတ်ပြင်း လမ်းအပိုင်း | ၅၀ မိုင် | |
| ၃။ | နေမင်းရောင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | တောင်ကြီး-လွိုင်လင်-နမ့်စန် လမ်းအပိုင်း | ၇၃ မိုင် | |
| ၄။ | အာရှမြန်မာ စီးပွားရေးလုပ်ငန်းစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက | ရွှေညောင်-ရပ်စောက် လမ်းအပိုင်း | ၃၆ မိုင် | |
| ၅။ | ဂျိတ်လင်းမြန်မာ ကုမ္ပဏီလီမိတက် | ဟိုပင်- ကုန်းသာ-လုံးတုံ-ညောင်ပင် လမ်းအပိုင်း | ၄၀ မိုင် | |
| ၆။ | ယုဇနဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက | မြိတ်-တနင်္သာရီ လမ်းအပိုင်း | ၅၀ မိုင် | |

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(ခ) / မ-လမ်း / ၂၀၁၁ (၂၃၈၂)၊
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၇ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ ။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Family Aye Ko Construction Co., Ltd.)မှ ကော့ကျိုက်- အိန္ဒူ- ဇာသပြင်- မော်လမြိုင် လမ်းအပိုင်း နှင့် မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွှဲတောင်) လမ်းအပိုင်းတို့အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီး ဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ။

၁။ အောက်ပါလမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ကော့ကျိုက် - ဇာသပြင် နှင့် အိန္ဒူ- ဇာသပြင် - မော်လမြိုင် လမ်းအပိုင်း | (၄၅)မိုင် (၂)ဖာလုံ | US$ ၁.၂၈ သန်း အပါအဝင် ကျပ် ၁၂၄၈.၄၀ သန်း | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ | မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွှဲတောင်) လမ်းအပိုင်း | (၁၁၂)မိုင် (၆)ဖာလုံ | US$ ၁.၄၂ သန်း အပါအဝင် ကျပ် ၃၁၆၆.၇၇ သန်း | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၁၉-၁-၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၁)အစည်းအဝေးမှ“လုပ်ငန်းဆောင်ရွက်ခွင့်ပြုကြောင်း” ဆုံးဖြတ်ချက်အရ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်း ဖြစ်ပါသည်။ နောက်ဆက်တွဲ(က)

၃။ အဆိုပြုလမ်းအပိုင်းရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှတည်ဆောက် ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီ များသို့ လေလံ

စနစ်ဖြင့် ဆောင်ရွက်စေပါသည်။ လမ်းအပိုင်း အလိုက် (၁၈၀) ပေ အထက် တံတားကြီးများ တည်ဆောက်ထားမှု နှင့် အသုံးပြုခကောက်ခံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။ တံတားအသုံးပြုခ ကောက်ခံ နှုန်းကို နောက်ဆက်တွဲ(ခ) ဖြင့် တင်ပြအပ်ပါသည်။

**အဆိုပြုလမ်းအပိုင်းများပေါ်ရှိ (၁၈၀)ပေ အထက်တံတားကြီးများ အသုံးပြုခကောက်ခံမှု**

| စဉ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | မှတ်ချက် |
|---|---|---|---|
| ၁။ | ကော့ကျိုက် - ဇာသပြင် နှင့် အိန္ဒူ- ဇာသပြင် - မော်လမြိုင် လမ်းအပိုင်း (၄၅)မိုင် (၂) ဖာလုံ (အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) | (၁) ဇာသပြင်တံတား ၂၉၀၀'<br>(၂) အတ္တရံတံတား ၁၄၂၀'<br>(၃) လှိုင်ချောင်းတံတား ၂၂၀' | (၁)၊ (၂) - စီမံကိန်းဝင်နှုန်းဖြင့် ကောက်ခံမည် ဖြစ်ပါသည်။<br>(၃) - တံတားအသုံးပြုခ ကောက်ခံခြင်း မပြုပါ။ |
| ၂။ | မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွှဲတောင်) လမ်း အပိုင်း (၁၁၂)မိုင် (၆)ဖာလုံ (အေးကိုမိသားစု ဆောက်လုပ် ရေး ကုမ္ပဏီလီမိတက်) | (၁) ရေးချောင်းတံတား ၄၇၀'<br>(၂) ဝင်းဖနုံတံတား ၁၈၀'<br>(၃)နီးပဒေါ်တံတား ၁၈၀'<br>(၄) ဝယ်ဝက်ရာတံတား ၁၈၀'<br>(၅) ကွမ်ကျိုက်တံတား ၁၈၀'<br>(၆) ကြိုးတန်းတံတား ၁၈၀' | (၁) - စီမံကိန်းဝင်နှုန်းဖြင့် ကောက်ခံမည် ဖြစ်ပါသည်။<br>(၂)-(၆) - တံတားအသုံးပြုခ ကောက်ခံခြင်း မပြုပါ။ |

၄။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)များပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေး ကာလ)မှာ (၃)နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်းသက်တမ်းကာလမှာ နှစ်(၄၀)ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ် စီဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်းကာလကို လမ်း ဖောက်

လုပ်သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ် ထုတ်ပေးသည့်နေ့၊ ထိုနှစ်ရပ် အနက် စောရာ နေ့ရက် ကာလ မှ စတင်သတ်မှတ်မည်ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံ မည် ဖြစ်ပါသည် -

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း<br>တစ်မိုင်နှုန်း(ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက် ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ (၃)တန်အထိ ယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅)တန်အောက် ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီးများ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိ ကုန်တင်ယာဉ်ကြီးများ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက် တန်ပို(၁)တန်လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) လမ်း၊ တံတား အသုံးပြုခရငွေအပေါ် ခွင့်ပြုကာလအပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါ သည်-

(၁) ပထမ (၃)နှစ်အတွက် ------- ကင်းလွတ်ခွင့်ကာလ

(၂) (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ(၁၀)နှစ် -------- ၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက် မှ (၂၃) နှစ်မြောက် အထိ (၁၀)နှစ် -------- ၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃) နှစ်မြောက် အထိ (၁၀)နှစ် -------- ၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက် မှ (၄၀) နှစ်မြောက် အထိ (၇)နှစ် -------- ၂၀% ပေးသွင်းရန်

* B.O.T နှစ်လေးဆယ် ပြည့်ပြီးနောက် သက်တမ်းတိုးခွင့်ရရှိပါက နိုင်ငံတော်မှ သတ်မှတ် ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရမည် ဖြစ်ပါသည်။

(င) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ်ချုပ်ဆိုပြီး (၃၀) ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေ ကို ထားရှိ ပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည့်အထိ ဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်း စတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်းစတင်ရန်

ပျက်ကွက်လျှင်သော် လည်းကောင်း၊ သတ်မှတ် ကာလအတွင်း လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက်ပါက ဘဏ်အာမခံ ငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူရမည်ဖြစ်ပါသည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှုလက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရပါမည်။

(စ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လုပ်ကိုင်ခွင့်မပြုရပါ။

(ဆ) လုပ်ငန်း စတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန)မှ လုပ်ငန်းစတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ)သို့ အကြောင်းကြားသည့်နေ့ဖြစ်ပါသည်။

(ဇ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့်ကာလ နှစ်(၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့်ကာလများ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ၊ ဂိတ်များနှင့် အဆောက် အဦများကို ဆောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၅။ လမ်းအပိုင်းအလိုက် လမ်း ဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက် ခွင့်ပြုသည့်နေ့ရက် များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| **စဉ်** | **ကုမ္ပဏီအမည်** | | **လမ်းအပိုင်း** | **လုပ်ငန်းစတင် ဆောင်ရွက်ခွင့်ပြုသည့်နေ့** |
|---|---|---|---|---|
| ၁။ | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ၁။ | ကော့ကျိုက် - ဇာသပြင် နှင့် အိန္ဒူ- ဇာသပြင် - မော်လမြိုင် လမ်းအပိုင်း | ၁၁-၂-၂၀၁၀ |
| | | ၂။ | မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွှဲတောင်) လမ်းအပိုင်း | ၁၆-၃-၂၀၁၀ |

၆။ အဆိုပြု လမ်းအပိုင်း(၂)ပိုင်းအား အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ အသုံးပြုခ ကောက်ခံခြင်းနှင့် စပ်လျဉ်းသည့် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက်အလက်များကို နောက်ဆက်တွဲ (ဂ) မှ (ဃ) အထိ လည်းကောင်း၊ လုပ်ငန်း အဆိုပြုချက်များကို နောက်ဆက်တွဲ (င) မှ (စ) အထိ လည်းကောင်း ပူးတွဲ တင်ပြအပ်ပါသည်။

၇။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၈။ အောက်ဖော်ပြပါ လမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | ကော့ကျိုက် - ဇာသပြင် နှင့် အိန္ဒူ- ဇာသပြင် - မော်လမြိုင် လမ်းအပိုင်း | (၄၅)မိုင် (၂)ဖာလုံ | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| (ခ) | မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်း | (၁၁၂)မိုင် (၆)ဖာလုံ | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်။

၉။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့



၆

ပြည်ထောင်စုမြန်မာနိုင်ငံတော်

နောက်ဆက်တွဲ (က)

# ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၁၁ခုနှစ်၊ ဇန်နဝါရီလ(၁၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၁) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၂၄-၅၂ | ၅၉၀ | အောက်ဖော်ပြပါ လမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ် ပါသည်။<br>(က) ကော့ကရိတ် - ဇာသပြင် နှင့် အိန္ဒူ- ဇာသပြင် - မော်လမြိုင် လမ်းအပိုင်း — (၄၅)မိုင်(၂)ဖာလုံ — အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်<br>(ခ) မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်)လမ်းအပိုင်း — (၁၁၂)မိုင် (၆)ဖာလုံ — အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။<br>ဆောက်လုပ်ရေးဝန်ကြီးဌာန။ |



နောက်ဆက်တွဲ(ခ)

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (သာမန်တံတား)

| | | | |
|---|---|---|---|
| (က) | ဆိုင်ကယ်၊ မြင်းလှည်း၊ ထော်လာဂျီ | ၅ | ကျပ် |
| (ခ) | (၂)တန်အောက်ယာဥ်၊ အခြားယာဥ်များ၊ ကိုယ်ပိုင်ယာဥ်ငယ်များ | ၃၀ | ကျပ် |
| (ဂ) | ဟိုင်းလတ်ခရီးသည်တင်ယာဥ် | ၄၀ | ကျပ် |
| (ဃ) | (၂)တန်အောက် ခရီးသည်တင်ယာဥ် | ၄၀ | ကျပ် |
| (င) | (၂)တန်မှ (၅)တန်အောက်ယာဥ် | ၆၀ | ကျပ် |
| (စ) | (၅)တန်နှင့် အထက် ခရီးသည်တင်ယာဥ် | ၁၀၀ | ကျပ် |
| (ဆ) | (၅)တန်နှင့်အထက် ယာဥ်ကြီး | ၁၅၀ | ကျပ် |
| (ဇ) | ထရပ်ကား (၂၀)တန်အထိ | ၁၅၀ | ကျပ် |

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (စီမံကိန်းဝင်တံတား)

| | | | |
|---|---|---|---|
| (က) | စက်ဘီး | ၅ | ကျပ် |
| (ခ) | ဆိုင်ကယ်၊ မြင်းလှည်း၊ | ၃၀ | ကျပ် |
| (ဂ) | ထော်လာဂျီ (ခရီးသည်/ကုန်မပါ) | ၅၀ | ကျပ် |
| (ဃ) | (၂)တန်အောက်ယာဥ်၊ အခြားယာဥ်များ၊ ကိုယ်ပိုင်ယာဥ်ငယ်များ | ၇၅ | ကျပ် |
| (င) | ဟိုင်းလတ်ခရီးသည်တင်ယာဥ် | ၂၀၀ | ကျပ် |
| (စ) | (၂)တန်မှ (၅)တန်အောက်ယာဥ် | ၂၅၀ | ကျပ် |
| (ဆ) | (၅)တန်ရှိ ခရီးသည်တင်ယာဥ် | ၄၅၀ | ကျပ် |
| (ဇ) | (၅)တန်မှ (၁၀)တန်အောက် ကုန်တင်ယာဥ်ကြီး | ၇၀၀ | ကျပ် |
| (ဈ) | (၁၀)တန်မှ(၂၀)တန်အထိ ကုန်တင်ယာဥ်ကြီး | ၁၀၀၀ | ကျပ် |

မှတ်ချက်။ ။ (ကုန်+ ယာဥ်) ၂၀ တန်ထက်ကျော်သော ယာဥ်များအတွက် တန်ပိုကြေး အဖြစ် (၁)တန်လျှင် ၃၀၀ ကျပ် နှုန်း၊

ခရီးသည်(သို့မဟုတ်) ကုန်တင်ဆောင်လာသည့် ထော်လာဂျီယာဥ် ၂၀၀ ကျပ်နှုန်း

**နောက်ဆက်တွဲ (ဂ)**

**ကော့ကျိုက် - ဇာသပြင် နှင့် အိန္ဒူ- ဇာသပြင် - မော်လမြိုင် လမ်းအပိုင်း၊ (အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အေးကိုမိသားစု ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (ကုမ္ပဏီမှတ်ပုံတင်အမှတ်၊၁၃၉၆/ ၂၀၀၇ - ၂၀၀၈ (၁၀-၁-၂၀၀၈) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအေးကို (အုပ်ချုပ်မှုဒါရိုက်တာ) (အဘ-ဦးစိန်အောင်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ကော့ကျိုက်- ဇာသပြင်နှင့် အိန္ဒူ- ဇာသပြင်- မော်လမြိုင် လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | <u>ကော့ကျိုက် - ဇာသပြင်နှင့် အိန္ဒူ- ဇာသပြင်- မော်လမြိုင်လမ်းအပိုင်း</u> <u>၄၅ မိုင် ၂ ဖာလုံ</u><br>- ကော့ကျိုက် - ဇာသပြင် ၁၈ မိုင် ၀ ဖာလုံ<br>- အိန္ဒူ - ဇာသပြင် ၁၅ မိုင် ၀ ဖာလုံ<br>- ဇာသပြင် - မော်လမြိုင် ၁၂ မိုင် ၂ ဖာလုံ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦ | - <u>ကျပ် ၁၂၄၈.၄၀ သန်း</u> (US$ ၁.၂၈ သန်း အပါအဝင်)<br>၉၅၅.၇၁<br>၇.၆၉ (US$ ၁.၂၈ သန်း)<br>၂၈၅.၀၀ |
| ၆။ | စက်ပစ္စည်းဝယ်ယူမှုနှင့် ငွေကြေး အထောက်အထား | - စက်ပစ္စည်းများကို ပြည်ပမှ ဝယ်ယူမည် ဖြစ်ပါသည်။ ငွေကြေး အထောက်အထားအဖြစ် အေးကိုမိသားစုကုမ္ပဏီ အမည်ဖြင့် CB ဘဏ်ရှိ (၈-၉-၂၀၁၀) နေ့ ငွေလက်ကျန် ကျပ်(၂၁၁.၀၀)သန်းနှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေးဘဏ် (MICB) ရှိ (၆-၁၀-၂၀၁၀)နေ့ ငွေ လက်ကျန် အမေရိကန်ဒေါ်လာ(၀.၅၈)သန်း တင်ပြထားပါ သည်။ |
| ၇။ | လမ်းတံတားအသုံးပြုခ ကောက်ခံ မည့် ဂိတ်တည်နေရာ | - ကော့ကျိုက်ရွာ အနီး မိုင်တိုင် ၆/၀ (၁)ဂိတ်<br>- ဇာသပြင်ရွာအနီး မိုင်တိုင် ၁၃/ ၅ (၁)ဂိတ် |

| | | |
|---|---|---|
| ၈။ | ဝင်ငွေ<br>(တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ် မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်းဖြစ်ပါသည်။) | - ကျပ် ၁၁၉.၅၁ သန်း |
| ၉။ | အသားတင်အမြတ် (၇နှစ်မြောက်) | ကျပ် ၁၂.၆၄ သန်း |
| ၁၀။ | အရင်းကြေကာလ | (၂၈) နှစ် နှင့် (၁)လ |
| ၁၁။ | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | ၁.၅၇ % |
| ၁၂။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br>ကျပ် ၅.၄၂ သန်း<br>ကျပ် ၅.၉၈ သန်း |
| ၁၃။ | လုပ်သားအင်အား<br>- တည်ဆောက်ရေးကာလ<br>- လုပ်ငန်းဆောင်ရွက်မှုကာလ | <br>- ၃၁၅ ဦး<br>- ၁၆ ဦး |
| ၁၄။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ |
| ၁၅။ | အခွန်ကင်းလွတ်ခွင့်/<br>သက်သာခွင့် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်အကောက် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။ |

နောက်ဆက်တွဲ (ဃ)

**မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်း၊ (အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၁၃၉၆/ ၂၀၀၇ - ၂၀၀၈ (၁၀-၁-၂၀၀၈) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအေးကို (အုပ်ချုပ်မှုဒါရိုက်တာ) (အဘ-ဦးစိန်အောင်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မော်လမြိုင်- မုဒုံ- သံဖြူဇရပ်- ရေး(မလွဲတောင်)လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | <u>မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်း</u> <u>၁၁၂ မိုင် ၆ ဖာလုံ</u><br>- မော်လမြိုင်မြို့နယ်အပိုင်း ၇ မိုင် ၂ ဖာလုံ<br>- မုဒုံမြို့နယ်အပိုင်း ၂၈ မိုင် ၀ ဖာလုံ<br>- သံဖြူဇရပ်မြို့နယ်အပိုင်း ၂၇ မိုင် ၀ ဖာလုံ<br>- လမိုင်းမြို့နယ်အပိုင်း ၂၀ မိုင် ၄ ဖာလုံ<br>- ရေးမြို့နယ်အပိုင်း ၁၇ မိုင် ၃ ဖာလုံ<br>- ခေါဇာမြို့နယ်ခွဲအပိုင်း ၁၂ မိုင် ၅ ဖာလုံ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦ | - <u>ကျပ် ၃၁၆၆.၇၇ သန်း</u> (US$ ၁.၄၂ သန်း အပါအဝင်)<br>၂၆၅၈.၂၅ (ချေးငွေ ၁၀၀၀ သန်း ပါဝင်ပါသည်။)<br>၈.၅၂ (US$ ၁.၄၂ သန်း)<br>၅၀၀.၀၀ |
| ၆။ | စက်ပစ္စည်းဝယ်ယူမှုနှင့် ငွေကြေး အထောက်အထား | - စက်ပစ္စည်းများကိုပြည်ပမှဝယ်ယူမည်ဖြစ်ပါသည်။ ငွေကြေး အထောက်အထားအဖြစ် အေးကိုမိသားစုကုမ္ပဏီအမည်ဖြင့် CB ဘဏ်ရှိ (၈-၉-၂၀၁၀)နေ့ ငွေလက်ကျန် ကျပ်(၂၁၁.၀၀) သန်းနှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှု နှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်(MICB) ရှိ (၆-၁၀-၂၀၁၀) နေ့ ငွေလက်ကျန် အမေရိကန်ဒေါ်လာ (၀.၅၈)သန်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၇။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - သာယာကုန်းရွာအနီး မိုင်တိုင် ၁၀/ ၂ (၁)ဂိတ်<br>- သံဖြူဇရပ်မြို့အနီး မိုင်တိုင် ၃၉/၄ (၁)ဂိတ်<br>- ရေးမြို့အနီး မိုင်တိုင် ၉၅/ ၆ (၁)ဂိတ် |
| ၈။ | ဝင်ငွေ<br>(တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၄၄၉.၆၀ သန်း |
| ၉။ | အသားတင်အမြတ် (၇နှစ်မြောက်) | ကျပ် ၄၀.၃၁ သန်း |
| ၁၀။ | အရင်းကြေကာလ | (၂၈) နှစ် နှင့် (၃)လ |
| ၁၁။ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၅၇ % |
| ၁၂။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br>ကျပ် ၁၇.၂၈ သန်း<br>ကျပ် ၂၂.၄၈ သန်း |
| ၁၃။ | လုပ်သားအင်အား<br>- တည်ဆောက်ရေးကာလ<br>- လုပ်ငန်းဆောင်ရွက်မှုကာလ | <br>- ၅၇၅ ဦး<br>- ၂၄ ဦး |
| ၁၄။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၅။ | အခွန်ကင်းလွတ်ခွင့်/ သက်သာခွင့် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်အကောက်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုရပါမည်။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

ဖက်(စ) -၉၅-၀၆၇- ၄၀၆၃၃၃ တယ်လီဖုန်း-၀၆၇-၄၀၆၀၇၅၊၄၀၆၁၆၀

စာအမှတ်၊ ရက - ၆(က)/ မ -၁၀၈၈၊ မ-၁၀၈၉/၂၀၁၁ ( ၁၀၆၇ )၊
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဇန်နဝါရီ လ ၂၅ ရက်။

သို့

ဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန။

အကြောင်းအရာ။ ။ အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Family Aye Ko Construction Co., Ltd.)မှ ကော့ကျိုက်- အိန္ဒူ- ဇာသပြင်- မော်လမြိုင် လမ်းအပိုင်း နှင့် မော်လမြိုင်- မုဒုံ- သံဖြူဇရပ်- ရေး (မလွဲတောင်) လမ်းအပိုင်းတို့အား BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ ။ (၁) ဆောက်လုပ်ရေး ဝန်ကြီးဌာန၏(၂၀-၁၂-၂၀၁၀) ရက်စွဲပါ စာအမှတ်၊ ၁/ ခွဲ - ၂/ ထွေ/ ၂၀၁၀ (ကုမ္ပဏီ)(စီ ၉၄၆၈)။ (ကော့ကျိုက်- အိန္ဒူ- ဇာသပြင်- မော်လမြိုင် လမ်းအပိုင်း)

(၂) ဆောက်လုပ်ရေး ဝန်ကြီးဌာန၏(၂၀-၁၂-၂၀၁၀) ရက်စွဲပါ စာအမှတ်၊ ၁/ ခွဲ - ၂/ ထွေ/ ၂၀၁၀ (ကုမ္ပဏီ)(စီ ၉၄၆၉)။(မော်လမြိုင်- မုဒုံ- သံဖြူဇရပ်- ရေး (မလွဲတောင်) လမ်း အပိုင်း)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါ စာများဖြင့် တင်ပြခြင်းကို (၁၉-၁-၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ "အောက်ဖော်ပြပါ လမ်းအပိုင်း(၂)ပိုင်းအား BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုကြောင်း" ဆုံးဖြတ်ကြပါသည်။

| | | |
|---|---|---|
| (က) ကော့ကျိုက်- ဇာသပြင်နှင့် အိန္ဒူ-ဇာသပြင်-မော်လမြိုင် လမ်းအပိုင်း | (၄၅)မိုင် (၂)ဖာလုံ | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

(ခ) မော်လမြိုင်- မုဒုံ- (၁၁၂)မိုင်(၆)ဖာလုံ အေးကိုမိသားစု
သံဖြူဇရပ်- ရေး ဆောက်လုပ်ရေး
(မလွဲတောင်) လမ်း အပိုင်း ကုမ္ပဏီလီမိတက်

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် အစိုးရအဖွဲ့ အစည်းအဝေး သို့ ဆက်လက်တင်ပြနိုင်ရန် အတွက် အဆိုပြုချက် (၁၅) စုံ ကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD copy နှင့် အတူ ဤ ကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(သူရိန်ဇော်၊အတွင်းရေးမှူး)

မိတ္တူ -

(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
(၂) အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်
(၃) ရုံးလက်ခံ/ မျှောစာတွဲ။

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ) / မ-လမ်း / ၂၀၁၁( ၄၇၅ )၊

**အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ( Family Aye Ko Construction Co., Ltd.)မှ ကျော့ကျိုက်- အိန္ဒူ- ဇာသပြင်- မော်လမြိုင် လမ်းအပိုင်းနှင့် မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်းတို့အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီး ဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ။**

**အကျဉ်းချုပ်။** ။ အောက်ပါလမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ကျော့ကျိုက် - ဇာသပြင် နှင့် အိန္ဒူ- ဇာသပြင် - မော်လမြိုင် လမ်းအပိုင်း | (၄၅)မိုင် (၂)ဖာလုံ | US$ ၁.၂၈ သန်း အပါအဝင် ကျပ် ၁၂၄၈.၄၀ သန်း | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ | မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်းအပိုင်း | (၁၁၂)မိုင် (၆)ဖာလုံ | US$ ၁.၄၂ သန်း အပါအဝင် ကျပ် ၃၁၆၆.၇၇ သန်း | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၁၉-၁၁-၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၈/ ၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ ကုန်သွယ်မှုမူဝါဒကောင်စီ သို့ တင်ပြလမ်းညွှန်မှုခံယူရန် ဆုံးဖြတ်ချက်အရ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်း ဖြစ်ပါ သည်။

အဆိုပြုလမ်းအပိုင်းရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက်တံတားများအတွက် တံတား အသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီများသို့ လေလံ စနစ်ဖြင့် ဆောင်ရွက်စေပါသည်။ ကျော့ကျိုက် - ဇာသပြင် နှင့် အိန္ဒူ- ဇာသပြင် - မော်လမြိုင် လမ်း အပိုင်းတွင် ဌာနမှ တည်ဆောက်ထားသည့် (၁၈၀)ပေ အထက် တံတား(၃)စင်း နှင့် မော်လမြိုင် - မုဒုံ - သံဖြူဇရပ် - ရေး (မလွဲတောင်) လမ်း အပိုင်းတွင် တံတား (၆)စင်း ရှိပါသည်။

